


ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အတည်ပြုမိန့်



အတည်ပြုမိန့်အမှတ် ၁၉၅/၂၀၁၈ ၂၀၁၈ ခုနှစ်၊ ဧပြီလ ၂၉ ရက်

မြန်မာနိုင်ငံနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ဥပဒေပုဒ်မ ၂၅ ပုဒ်မခွဲ (ဃ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူအမည်** ဖူရှင်းတိုးဘက်ကိုးအင်ဒပ်စထရီယယ်(လ်) လီမိတက်

(၂) **နိုင်ငံသား** -

(၃) **နေရပ်လိပ်စာ** အမှတ် ၁၃၊ ဗိုလ်အောင်ကျော်လမ်း၊ လှိုင်သာယာစက်မှုဇုန် ၄၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်မြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ** -

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** စီးကရက်ထုတ်လုပ်တင်ပို့ရောင်းချခြင်းလုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** မြေကွက်အမှတ် ၁၃၊ မြေတိုင်းရပ်ကွက်အမှတ် အပိုင်း ၄၊ စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၁၂၉၈၅.၉၀ သန်း (အမေရိကန်ဒေါ်လာ ၄.၀၇၆ သန်းအပါအဝင်စုစုပေါင်းကျပ်တစ်သောင်းနှစ်ထောင်ကိုးရာရှစ်ဆယ့်ငါးသန်း ကိုးသိန်းတိတိ)

(၁၁) **တည်ဆောက်မှုကာလ** ၁ နှစ်

(၁၂) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** -

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** FU XING TOBACCO INDUSTRIAL LIMITED (ဖူရှင်းတိုးဘက်ကိုးအင်ဒပ်စထရီယယ်(လ်) လီမိတက်)

29.4.18

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့
☎ ၀၁-၆၅၈၁၂၈
🖷 ၀၁-၆၅၈၁၄၁

စာအမှတ်၊မရက- ၃/အ-၀၄၆/၂၀၁၈ ( ၀၁၃၈ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဧပြီလ ၂၉ ရက်

အကြောင်းအရာ။ **Fu Xing Tobacco Industrial Limited (ဖူရှင်းတိုးဘက်ကိုး အင်ဒပ်စထရီယယ်(လ်) လီမိတက်) ၏ စီးကရက်ထုတ်လုပ်တင်ပို့ရောင်းချခြင်း လုပ်ငန်းအတည်ပြုလျှောက်ထားလွှာအပေါ် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည်ညွှန်းချက် ။ Fu Xing Tobacco Industrial Limited (ဖူရှင်းတိုးဘက်ကိုး အင်ဒပ်စထရီယယ်(လ်) လီမိတက်) ၏ ၂၀၁၈ ခုနှစ် မတ်လ ၁၉ ရက် နေ့စွဲပါစာ

၁။ Fu Xing Tobacco Industrial Limited (ဖူရှင်းတိုးဘက်ကိုး အင်ဒပ် စထရီယယ်(လ်) လီမိတက်) မှ မြေကွက်အမှတ် ၁၃၊ မြေတိုင်းရပ်ကွက်အမှတ် အပိုင်း ၄၊ စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် စီးကရက်ထုတ်လုပ်တင်ပို့ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းအား ၂၀၁၈ ခုနှစ် ဧပြီလ ၂၀ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ၅/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေကို ကျင့်သုံးလျက် Fu Xing Tobacco Industrial Limited (ဖူရှင်းတိုးဘက်ကိုးအင်ဒပ်စထရီယယ်(လ်)လီမိတက်)အား စီးကရက်ထုတ်လုပ်တင်ပို့ ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့်အမှတ်၊ ၀၉၅/၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ Fu Xing Tobacco Industrial Limited (ဖူရှင်းတိုးဘက်ကိုး အင်ဒပ် စထရီယယ်(လ်) လီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Fu Xing Tobacco Industrial Limited (ဖူရှင်းတိုးဘက်ကိုးအင်ဒပ်စထရီယယ်(လ်) လီမိတက်) သည် ဤအတည်ပြုမိန့်အရ **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

(ခ) Fu Xing Tobacco Industrial Limited (ဖူရှင်းတိုးဘက်ကိုး အင်ဒပ်စထရီယယ်(လ်) လီမိတက်) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ နှင့် နည်း ဥပဒေအခန်း(၂၀)တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဂ) Fu Xing Tobacco Industrial Limited (ဖူရှင်းတိုးဘက်ကိုး အင်ဒပ် စထရီယယ်(လ်) လီမိတက်) သည် လုပ်ငန်းဆောင်ရွက်ရာတွင် သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ပြဋ္ဌာန်း ထုတ်ပြန်ထားပြီး ဖြစ်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

(ဃ) Fu Xing Tobacco Industrial Limited (ဖူရှင်းတိုးဘက်ကိုး အင်ဒပ် စထရီယယ်(လ်)လီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလ အတွင်း အခြား ပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(င) Fu Xing Tobacco Industrial Limited (ဖူရှင်းတိုးဘက်ကိုး အင်ဒပ် စထရီယယ်(လ်) လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ် အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(စ) Fu Xing Tobacco Industrial Limited (ဖူရှင်းတိုးဘက်ကိုး အင်ဒပ်စထရီယယ်(လ်)လီမိတက်)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်းဆောင်ရွက် နေစဉ်အတွင်း လုပ်ငန်း အစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့်ပုံစံဖြင့် တင်ပြရမည်။

၃။ Fu Xing Tobacco Industrial Limited (ဖူရှင်းတိုးဘက်ကိုး အင်ဒပ် စထရီယယ်(လ်) လီမိတက်) သည် လုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက် အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင်သို့မဟုတ် ခွင့်ပြုမိန့်ရယူရန်လိုအပ်လျှင် သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ (၅)စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

(ကျော်ဝင်း)
ဥက္ကဋ္ဌ

**Fu Xing Tobacco Industrial Limited**
**(ဖူရှင်းတိုးဘက်ကိုး အင်ဒပ် စထရီယယ်(လ်) လီမိတက်)**
**ဖြန့်ဝေခြင်း**
ပြည်ထဲရေးဝန်ကြီးဌာန

ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ရန်ကုန်တိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန